ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပုံစံ (၅-ခ)
စာအမှတ် - ၁၁၆၅ -
ရက်စွဲ ၁၃-၁၂-၂၀၁၈
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

**ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်**

**ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ**

**အတည်ပြုမိန့်**

**အတည်ပြုမိန့်အမှတ်** ကရန- ၁၀၆ /၂၀၁၈ ၂၀၁၈ ခုနှစ် ဒီဇင်ဘာ လ ၁၃ ရက်

**ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -**

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** VANTAGE MYAWADDY COMPANY LIMITED

(၂) **နိုင်ငံသား** -

(၃) **နေရပ်လိပ်စာ** အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်။

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** အခန်း (၅၄) ခန်းပါ အဆင့်မြင့် ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** အကွက်အမှတ် (၅၃-အေ / မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်။

(၈) **နိုင်ငံခြားမတည်ငွေရင်း ပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၁၆၀၀ သန်း
(အမေရိကန်ဒေါ်လာ ၀.၀၆၅ သန်း အပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၁ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** VANTAGE MYAWADDY COMPANY LIMITED (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်)

**ဥက္ကဋ္ဌ**

**ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက် ဦးစီးဌာန

ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ (ဘားအံမြို့)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ကရင်ပြည်နယ်ဦးစီးမှူးရုံး၊ ဘားအံမြို့

နေစဉ် အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) သည် အတည်ပြု လုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရ ဖြစ်စေ၊ အခြားလိုအပ်ချက်အရ ဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များ နှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီ အား ကော်မတီသို့ ပေးပို့ရမည်။

(နန်းခင်ထွေးမြင့်)
ဥက္ကဋ္ဌ
(ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ)

**Vantage Myawaddy Company Limited**
**(အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်)**
**ဖြန့်ဝေခြင်း-**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေး ဝန်ကြီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန
ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

မြှုပ်နှံမှု ဥပဒေပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့် အရ **ဝန်ဆောင်မှု ရည်မှန်းချက်များကို အကောင်းဆုံး** အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

(ဂ) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန် ဝတ္တရားများ နှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(ဃ) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) တို့ကို သက်ဆိုင်ရာ ဌာန၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ လမ်းညွှန်ချက်၊ စည်းမျဉ်း၊ စည်းကမ်း များနှင့်အညီဆောင်ရွက်ရမည်။

(င) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြားပုဂ္ဂိုလ် တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် အခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ် များ ပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ် ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ် သို့ တင်ပြရမည်။

(ဆ) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

သုခနေလမ်း၊ ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ဘားအံမြို့၊ ကရင်ပြည်နယ်။

ဖုန်း ၀၅၈-၂၂၇၅၀ — စာအမှတ်၊ ကရန / ရနမ-၂ / ၂၀၁၈ (၀၁၆၅)

ဖက်(စ်) ၀၅၈-၂၂၇၄၉ — ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဒီဇင်ဘာ လ ၁၃ ရက်

အကြောင်းအရာ။ **Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) ၏ အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်း အတည်ပြုမိန့်အပေါ် ကရင်ပြည်နယ် ရင်းနှီး မြှုပ်နှံမှု ကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက် ။ Vantage Myawaddy Company Limited ၏ ၆-၁၁-၂၀၁၈ ရက်စွဲပါ တင်ပြစာ

၁။ Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) မှ အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ / မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ မြေ (၀.၄၁၅) ဧကတွင် အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းအပေါ် ၂၀၁၈ ခုနှစ် ဒီဇင်ဘာလ ၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ (၆/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေ များကို ကျင့်သုံးလျက် Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) အား အခန်း (၅၄) ခန်းပါ အဆင့်မြင့် ဟိုတယ်တည်ဆောက် လုပ်ကိုင်ခြင်း လုပ်ငန်းအား ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် အမှတ်၊ ကရန-၀၀၆ /၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာ ဆောင်ရွက်ရမည်-

(က) Vantage Myawaddy Company Limited (အောင်မြေမြဝတီ ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ အခန်း (၅၄) ခန်းပါ အဆင့်မြင့် ဟိုတယ် တည်ဆောက် လုပ်ကိုင်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီး

နောက်ဆက်တွဲ (ဃ)

ပြည် နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
က ရင် ပြည် နယ် - ဘား အံ မြို့
စာအမှတ်၊ ၂၄၅၅ / ၈-၄၁ / ကရစ (၀၃၀)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၂၀ ရက်

ပြည်နယ်စည်ပင်သာယာရေးအဖွဲ့
ရုံးတံဆိပ်
ကရင်ပြည်နယ်၊ ဘားအံမြို့

KYNIC-102
20/11/2018

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီ
သုခနလမ်း၊ပြည်နယ်အစိုးရအဖွဲ့
ကရင်ပြည်နယ်၊ ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ သုခနလမ်း၊ပြည်နယ်အစိုးရအဖွဲ့ရုံး၊ဘားအံမြို့၊ကရင်ပြည်နယ်၏ ၁၃-၁၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ကရန / ရနပ-၂ / ၂၀၁၈(၀၁၃၉)

၁။ Vantage Myanmar Co,Ltd မှ အမှတ်(၂၄၁)၊ မြန်မာနန်း(၁)လမ်း၊ အကွက်အမှတ်(၅၃-အေ / မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊၂၁၂၊၂၁၃၊၂၄၀၊၂၄၁)၊ အမှတ်(၄)ရပ်ကွက်မြဝတီမြို့၊ ကရင်ပြည်နယ်ရှိမြေ (၀.၄၁၅)ဧကတွင် အခန်း(၅၄)ခန်းပါအဆင့်မြင့် ဟိုတယ်တည်ဆောက်မှုနှင့် ပတ်သတ်၍ အောက်ပါသဘောထား မှတ်ချက်အား ပြန်ကြားပါသည် -

(က) မြဝတီစည်ပင်သာယာရေးအဖွဲ့တွင် အဆောက်အဦဆောက်လုပ်မိန့်လျှောက်ထားရယူရန်

(ခ) ဟိုတယ်လိုင်စင်မရမီ တည်းခိုခြင်းလုပ်ငန်းများ ကြိုတင်ဆောင်ရွက်လိုပါက စည်ပင်တည်းခိုခန်း လိုင်စင် လျှောက်ထားရယူရန်

(ဂ) ရေဆိုးထုတ်Plan ရေးဆွဲဆောင်ရွက်ရန်

၂။ အဆိုပါကိစ္စများလိုက်နာဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားပါသည်။

20/11

ညွှန်ကြားရေးမှူး
(စိုးမြင့်၊ကရစ-၀၀၀၁)

မိတ္တူကို

ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့
အမှုဆောင်အရာရှိ၊မြို့နယ်စည်ပင်သာယာရေးအဖွဲ့၊မြဝတီမြို့
Vantage Myanmar Co,Ltd
ရုံးလက်ခံ / မျှောစာတွဲ

gineer 2018

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူဆောင်ရွက်ရန် ။

၅။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါအချက်များအား တိကျစွာ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်နယ်တာဝန်ခံ
(ကြည်သာလှိုင်၊ လက်ထောက်ညွှန်ကြားရေးမှူး)

**မိတ္တူကို**

ဝန်ကြီး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ သစ်တော၊ သတ္တုနှင့် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ ကရင်ပြည်နယ်
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်
ရုံးလက်ခံ/မျှောစာတွဲ

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု ၊ ရေထု နှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) ဟိုတယ်လုပ်ငန်းလည်ပတ်ချိန်၌ ဟိုတယ်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျ စွန့်ပစ်ခြင်းမပြုဘဲ တိုက်ရိုက်စွန့်ပစ်ပါက ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ ဘားခန်း၊ မီးဖိုဆောင်မှ ထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန် အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကြွပ်ကြွပ်အိတ်ကဲ့သို့ အမှိုက်များကို စနစ်တကျ မစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်း စသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ Vantage Myawaddy Co., Ltd မှ အဆင်မြင့်ဟိုတယ်တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးဆိုင်ရာ ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် နှစ်စဉ်အမြတ်ငွေ၏ ( ၂%) ကိုရန်ပုံငွေအဖြစ် အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဂ) အဆိုပြုအဆောက်အဦတွင် အခန်း(၅၄)ခန်းပါ ၅၆ပေ x ၁၀၈ပေ အကျယ်ရှိ (4.5 Storey RCC Building) ဟိုတယ်အဆောက်အဦ (၁)လုံးနှင့် ၆၅ပေ x ၂၅ပေ အကျယ်ရှိ ( 3 Storey Steel Structure Building) ဟိုတယ်ရုံးအဆောက်အဦ (၁) လုံး ပါရှိပါကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်အမြတ်ငွေ၏ ၂% အား လူမှုရေးဆိုင်ရာတာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility-CSR) ရံပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည် ဖြစ်ကြောင်း ၊

(င) မီးဘေးလုံခြုံရေးနှင့် စပ်လျဉ်း၍ မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုကို အစဉ်ခံယူ၍ လမ်းညွှန်ချက်များအတိုင်း ဂရုပြုလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်း ကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဌာန်းထုတ်ပြန်ထားသည့် ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး ဆောင် ရွက်သွားမည်ဖြစ်ကြောင်း၊

(ဆ) အမျိုးသားယဉ်ကျေးမှုကိုထိန်းသိမ်းခြင်းနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန ၊ အဖွဲ့အ စည်းအသီးသီး၏ လမ်းညွှန်ချက်များ၊ ညွှန်ကြားချက်များအား သိရှိလိုက်နာ ဆောင် ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Vantage Myawaddy Co., Ltd မှ အဆင့်မြင့် ဟိုတယ်တည်ဆောက်၍ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် အဆောက်အဦများ ဆောက်လုပ်ရန်အတွက် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်အမွှားများနှင့် ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

နောက်ဆက်တွဲ (ဂ)

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးရုံး
ကရင်ပြည်နယ်၊ ဘားအံမြို့
စာအမှတ်၊ ၁၀၄၅/ကရ-(EIA)/၂၀၁၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၁၅ ရက်

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်၊ ဘားအံမြို့

KYNIC-98
16/11/2018

အကြောင်းအရာ။ **Vantage Myawaddy အမည်ဖြင့် အဆင်မြင့်ဟိုတယ် တည်ဆောက်ခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အကြောင်းကြားလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ကရင်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၁.၁၁.၂၀၁၈) ရက်စွဲပါ စာအမှတ်၊ ကရန/ ရမန-၂/ ၂၀၁၈(၀၁၃၆)

၁။ Vantage Myawaddy Co., Ltd မှ ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ်(၄)ရပ်ကွက်၊ ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁ )၊ အကွက်အမှတ် (၅၃-အေ/ မြန်မာနန်းအကွက်)၊ မြန်မာနန်း(၁)လမ်း၊ အမှတ် (၂၄၁) ၌ စုစုပေါင်း မြေဧရိယာ (၀.၄၁၅) ဧကတွင် Vantage Myawaddy အမည်ဖြင့် အဆင်မြင့်ဟိုတယ် တည်ဆောက်ခြင်းနှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ကိစ္စနှင့် စပ်လျဥ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အတည်ပြုလျှောက်လွှာအားစိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည်-

(က) တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) စီးပွားဖြစ်စတင်ဆောင်ရွက်မည့်နှစ်မှာ ၂၀၁၉ ခုနှစ် ဖြစ်ကြောင်း၊

(ခ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများမှာ ပြည်တွင်းမှဝယ်ယူသုံးစွဲမည်ဖြစ်ပြီး စက်ပစ္စည်းများကိုသာပြည်ပမှဝယ်ယူသုံးစွဲမည်ဖြစ်ပါ၍ ဟိုတယ်အတွက် သင့်တော်မှုရှိ/မရှိ စစ်ဆေးဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအနေဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ (၁၉၉၃)နှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်(၂၀၁၁)များပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ဝန်ခံချက်များ ရယူဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဃ) အဆိုပါလုပ်ငန်းနှင့် ပတ်သက်၍ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားပါသည်။

14/11/18

(အေးမောင်လှိုင်)
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို

- ပြည်နယ်ဝန်ကြီး၊စီမံကိန်း၊ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ဘားအံမြို့။
- ညွှန်ကြားရေးမှူး၊ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ဘားအံမြို့
- ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဘားအံရုံးခွဲ
စာအမှတ်၊က - ဘအ / ၂၀၁၈ ( ၅၈၅ )
ရက်စွဲ၊၂၀၁၈ခုနှစ် နိုဝင်ဘာလ( ၁၄ )ရက်

(Stamp: ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန ဘားအံရုံးခွဲ; စာအမှတ် ၅၈၅; ရက်စွဲ ၁၄/၁၁/၁၈)

KYNIC-95
14/11/2018

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ်သဘောထားပြန်ကြားပေးပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၁၃-၁၁-၂၀၁၈)ရက်စွဲပါစာအမှတ်၊ ကရန/ ရနမ-၂/၂၀၁၈(၀၁၃၈)

၁။ ရည်ညွှန်းပါစာဖြင့် Vantage Myawaddy Co.,Ltd မှ အမှတ်(၂၄၁)၊ မြန်မာနန်း(၁)လမ်း၊ အကွက်အမှတ်(၅၃-အေ/မြန်မာနန်းအကွက်) ဦးပိုင်အမှတ်(၂၁၁၊၂၁၂၊၂၁၃။၂၄၀၊၂၄၁) အမှတ်(၄)ရပ်ကွက်၊မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ မြေ(၀.၄၁၅) ဧကတွင် အခန်း(၅၄)ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်ပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလျှောက်ထားမှုအပေါ် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှ (၅)ရက်အတွင်း သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ညှိနှိုင်းလာပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးရမည့် အချက်(၄)ချက်အား အောက်ပါအတိုင်း ပြန်ကြားပါသည်-

(က) အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးမျိုးမင်းအောင်ကျော်(၁၂/တမန(နိုင်)၀၇၇၈၆၈)၏ ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းမှာ(၈၀%)ပြီးစီးနေပြီး ဖြစ်ပါကြောင်းနှင့် အဆိုပါ Vantage Hotel သည် လျှောက်ထားသူ ဦးမျိုးမင်းအောင်ကျော်(၁၂/တမန(နိုင်)၀၇၇၈၆၈)မှ ဟိုတယ်တည်ဆောက်ခွင့်ရရှိရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားခဲ့ရာ ဝန်ကြီးရုံး၏(၁၁-၁-၂၀၁၈) ရက်စွဲပါ စာအမှတ်၊၁၈-၇(အုပ်ချုပ်မှု)/နပတ/၀၀၈၇ ဖြင့် ဟိုတယ်တည်ဆောက်ခွင့် ရရှိထားပြီးဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းလိုင်စင် ရရှိရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်တင်ပြဆောင် ရွက်သွားမည်ဖြစ်ပါသည်။

နောက်ဆက်တွဲ (က)

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့ရုံး
ကရင်ပြည်နယ်

စာအမှတ် ၊ ၂၀၀ / ၇ - ၂၈ / ဦး ၆ (၂၀၁၆)
ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ နိုဝင်ဘာလ ၂၇ ရက်

KYN - 858
28/11/2018

သို့

အတွင်းရေးမှူး
ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁၃-၁၁-၂၀၁၈)ရက်စွဲပါစာအမှတ်၊ ကရန / ရနမ /၂၀၁၈(၀၁၃၇)

Vantage Myawaddy Co.,Ltd မှ အမှတ်(၂၄၁)၊ မြန်မာနန်း(၁)လမ်း၊ အကွက်အမှတ်(၅၃-အေ/မြန်မာနန်းအကွက်)၊ ဦးပိုင်အမှတ်(၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ်(၄)ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ မြေဧရိယာ(၀.၄၁၅)ဧကတွင် အခန်း(၅၄)ခန်းပါ အဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်များပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ (၂၃-၁၁-၂၀၁၈)ရက်နေ့တွင် ကျင်းပပြုလုပ်သော ကရင်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄၄/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၂)အရ **သဘောတူကြောင်း** အကြောင်းကြားပါသည်။

27.11.2018

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(ခင်မောင်ဆန်း၊ အတွင်းရေးမှူး)

မိတ္တူကို
ပြည်နယ်စီမံကိန်း၊ ဘဏ္ဍာရေးနှင့်စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဘားအံမြို့
Vantage Myawaddy Co.,Ltd
မျှော
လက်ခံ

လျှို့ဝှက်

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Vantage Myawaddy Company Limited မှ အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြု မိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(နိုင်ဝင်းတိုး ၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

၆။ ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာအဖွဲ့ဝင်မှ ဦးမင်းအေး အမည်ဖြင့် ရာဝတီ ဘဏ် (AYA Bank ) တွင် ၉-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၁၀၅,၀၁၅,၇၅၁.၅၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့်ရယူ ဆောင်ရွက်ရမည့် စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း၊ အတည်ပြု မိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် (၁၃/ ၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်သည့်အတွက် **အခွန်ကင်းလွတ်ခွင့်၊ သက်သာ ခွင့်များခံစားနိုင်မည်ဖြစ်သဖြင့်** ကုမ္ပဏီမှ အခွန်ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထား တင်ပြထားပါသည်။

(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် **၇ နှစ်** လျှောက်ထားနိုင်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက် ခွင့်ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါ။

(စ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ် လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးသော လုပ်ငန်းများ၊ ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးဘဲ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်ပေးမည့် လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါ။

(ဆ) စက်ရုံ၌ အလုပ်သမားများနှင့် ဒေသခံပြည်သူများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်ထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၃) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(၄) ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသ တွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်။

(၅) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြည်နယ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။ **နောက်ဆက်တွဲ-ဂ**

(ဃ) ပြည်နယ် စည်ပင်သာယာရေး အဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁) မြဝတီ စည်ပင်သာယာရေး အဖွဲ့တွင် အဆောက်အဦ ဆောက်လုပ်မိန့် လျှောက်ထား ရယူရန်။

(၂) ဟိုတယ်လိုင်စင်မရမီ တည်းခိုခြင်းလုပ်ငန်းများ ကြိုတင်ဆောင်ရွက်လိုပါက စည်ပင် တည်းခိုခန်းလိုင်စင် လျှောက်ထားရယူရန်။

(၃) ရေဆိုးထုတ် Plan ရေးဆွဲဆောင်ရွက်ရန်။

(၄) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြည်နယ် စည်ပင်သာယာရေး အဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။ **နောက်ဆက်တွဲ-ဃ**

၅။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားခဲ့ပါသည်-

(က) ကရင်ပြည်နယ် အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) ပြည်နယ် ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁) အဆိုပါလုပ်ငန်းသည် ဟိုတယ်တည်ဆောက်ခွင့် ရရှိထားပြီးဖြစ်၍ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်တင်ပြဆောင်ရွက်စေမည် ဖြစ်ကြောင်း။

(၂) ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများမှာ ပြည်တွင်းမှ ဝယ်ယူသုံးစွဲမည်ဖြစ်ပြီး စက်ပစ္စည်းများ ကိုသာ ပြည်ပမှဝယ်ယူသုံးစွဲမည်ဖြစ်ပါ၍ ဟိုတယ်အတွက် သင့်တော်မှုရှိ/ မရှိ စစ်ဆေး ဆောင်ရွက်သွားမည်ဖြစ်ကြောင်း။

(၃) ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအနေဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ (၁၉၉၃) နှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်း လိုင်စင်ဆိုင်ရာ အမိန့် (၂၀၁၁) များပါ ပြဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ဝန်ခံချက်များ ရယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း။

(၄) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ပြည်နယ် ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။ **နောက်ဆက်တွဲ-ခ**

(ဂ) ပြည်နယ် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အောက်ပါ အတိုင်း သဘောထားပြန်ကြားခဲ့ပါသည်-

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ဆိုင်ရာ ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက် အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corpotate Social Responsibility-CSR) အတွက် နှစ်စဉ်အမြတ်ငွေ၏ (၂%) ကို ရန်ပုံငွေအဖြစ် အသုံးပြုခြင်းအပါအဝင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ

စာအမှတ်၊ ကရန / ရနမ-၂ /၂၀၁၈ (၀၁၅)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် နိုဝင်ဘာ လ ၂၉ ရက်

## ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီ သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Vantage Myawaddy Co., Ltd. မှ အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ / မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ မြေ (၀.၄၁၅) ဧကတွင် အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးပါရန် တင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Vantage MyawaddyCo., Ltd. မှ အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ / မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ မြေ (၀.၄၁၅) ဧကတွင် အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကရင်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ အတည်ပြု လျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် မြေငှားဂရမ်စာချုပ် မိတ္တူနှင့် မြေစာရင်းပုံစံ- ၁၀၅ မိတ္တူတို့အား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေး ကာလမှာ- ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပြီး လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၁,၆၀၀ သန်း (US$ ၀.၀၆၅ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **စုစုပေါင်း (ကျပ်)** | **စုစုပေါင်း (US$ )** |
|---|---|---|
| ငွေသား | ၇၂,၅၀၀,၀၀၀ | - |
| အဆောက်အဦးတန်ဖိုး | ၈၂၆,၅၃၆,၆၀၀ | - |
| စက်ပစ္စည်း | - | ၆၅,၀၀၀ |
| ဟိုတယ်သုံးပစ္စည်းတန်ဖိုး | ၆၀၃,၄၆၃,၄၀၀ | - |
| **စုစုပေါင်း** | **၁,၅၀၂,၅၀၀,၀၀၀** | **၆၅,၀၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၈၃ ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပါသည်။

| | | |
|---|---|---|
| | | မြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ် လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးသော လုပ်ငန်းများ၊ ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့် သက်သာခွင့် မပေးဘဲ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့် ပေးမည့် လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း။ |

| | | |
|---|---|---|
| | | တင်ပြထားပါ သည်။<br>(ဈ) လုပ်ငန်းဆောင်ရွက်ရန် Vantage Myawaddy Co., Ltd. သည် မြေပိုင်ရှင်ဖြစ်သူ ဦးမျိုးမင်းအောင်ကျော် ထံမှ ငှားရမ်းမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါသည်။ |
| ၁၉။ | **စိစစ်တင်ပြချက်** | (က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၃၆ အရ အဆိုပြုလုပ်ငန်းသည် ကော်မရှင်၏ ခွင့်ပြုမိန့် ရယူ ဆောင်ရွက်ရမည့် စာရင်းတွင် ပါဝင်ခြင်း မရှိပါကြောင်း၊ အတည်ပြုမိန့်ဖြင့် ဆောင်ရွက်နိုင်ကြောင်း စိစစ်ရပါသည်။<br>(ခ) အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁ ရက်နေ့ပါ အမိန့်ကြော်ငြာ စာအမှတ် ၁၃/၂၀၁၇ အရဦးစားပေး မြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ စာရင်းတွင် ပါဝင်သည့် အတွက် **အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားနိုင်မည်ဖြစ်သဖြင့်** ကုမ္ပဏီမှ အခွန် ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထား နိုင်ပါသည်။<br>(ဂ) ဖွံ့ဖြိုးတိုးတက်မှု ဇုန်-၁ တွင် ပါဝင်သည့် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် **၇ နှစ်** လျှောက်ထား နိုင်ပါ သည်။<br>(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၁၀ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ အရ နိုင်ငံတော်ကသာ ဆောင်ရွက်ခွင့် ရှိသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်း စာရင်းတွင် ပါဝင်ခြင်း မရှိပါ ကြောင်း။<br>(င) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီး |

| | | |
|---|---|---|
| ၁၈။ | **အခြားတင်ပြချက်များ** | (က) Vantage Myawaddy Co., Ltd.သည် ကုမ္ပဏီ မှတ်ပုံတင်အမှတ်- ၁၀၃၈၇၂၄၅၆ ဖြင့် (၁၁-၉-၂၀၁၈) ခုနှစ်တွင် ဖွဲ့စည်းထားသည့် ကုမ္ပဏီ မှတ်ပုံတင်ကဒ် (မိတ္တူ) တင်ပြထား ပါသည်။<br>(ခ) မြေအထောက်အထားအဖြစ် မြေငှားဂရမ် စာချုပ် မိတ္တူ ပူးတွဲ တင်ပြထားပါ သည်။<br>(ဂ) ငွေကြေးအထောက်အထားအဖြစ် ဒါရိုက်တာ အဖွဲ့ဝင်မှ ဦးမင်းအေး အမည်ဖြင့် (၉-၁၁-၂၀၁၈) ရက်စွဲအရ AYA Bank တွင် ငွေစာရင်းအမှတ် (၀၂၃၁၀၁၀၁၀၀၁၀၁၃၁၄) ကျပ် ၁၀၅,၀၁၅,၇၅၁.၅၀ ရှိကြောင်းတင်ပြထားပါသည်။<br>(ဃ) ဒါရိုက်တာစာရင်း၊ ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။<br>(င) Vantage Myawaddy Co., Ltd. သည် အဆောက်အဦအတွက် (Prposed structural design for 4.5 Storey RCC Building and Prposed structural design for 3 Storey Steel Structure Building) တို့ကို ပူးတွဲ တင်ပြ ထားပါသည်။<br>(စ) မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်၊ အမျိုးသား ယဉ်ကျေးမှုကို ထိန်းသိမ်းမည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ ၊ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တို့ကိုတင်ပြ ထားပါသည်။<br>(ဆ) လူမှုဘဝ သာယာဝပြောရေး တာဝန်ယူမှု (CSR) စီမံချက်ကို လုပ်ငန်းမှ နှစ်စဉ် အမြတ်ငွေ၏ ၂ % အား C.S.R ရံပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ |

<table>
<tr><td>၇။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ကနဦး (၃၀) နှစ် နောက်ထပ် (၁၀) နှစ် (၂) ကြိမ်</td></tr>
<tr><td>၈။</td><td>တည်ဆောက်ရေးကာလ</td><td>- ၁နှစ် (၂၀၁၈ အောက်တိုဘာလ မှ ၂၀၁၉ အောက်တိုလာလ အထိ)</td></tr>
<tr><td>၉။</td><td>စီးပွားဖြစ်စတင်ဆောင်ရွက်မည့်နှစ်</td><td>- ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ။</td></tr>
<tr><td>၁၀။</td><td>ဝန်ထမ်းအင်အား(ပထမနှစ်)<br>ပြည်တွင်း</td><td>- ၈၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁၅၀၀,၀၀၀ ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။</td></tr>
<tr><td>၁၁။</td><td>ဝန်ဆောင်မှု (၈) နှစ်မြောက်</td><td>
<table>
<tr><th>စဉ်</th><th>အမျိုးအစား</th><th>အခန်းအရေအတွက်</th><th>ဝန်ဆောင်ခနှုန်း (ကျပ်)</th><th>ဝန်ဆောင်ခနှုန်း (US$)</th></tr>
<tr><td>၁</td><td>(က) Double Room<br>(ခ) Family Room</td><td>၄၈ခန်း<br>၆ခန်း</td><td>၄၅,၀၀၀<br>၈၀,၀၀၀</td><td>၃၅<br>၆၀</td></tr>
<tr><td>၂</td><td>(က)Restaurant, Bar<br>(ခ)Loundry & Others</td><td>-<br>-</td><td>16,863,000<br>3,372,600</td><td>13,031<br>2,606</td></tr>
</table>
</td></tr>
<tr><td>၁၂။</td><td>ဝင်ငွေ (၈ နှစ်မြောက်)</td><td>- ကျပ် ၇၇၁,၈၆၆,၁၀၀</td></tr>
<tr><td>၁၃။</td><td>အသားတင်အမြတ် (၈ နှစ်မြောက်)</td><td>- ကျပ် ၁၁၉,၇၁၀,၉၆၄</td></tr>
<tr><td>၁၄။</td><td>နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၈ နှစ်မြောက်)<br>ဝင်ငွေခွန်<br>အရင်းကြေကာလ</td><td><br>- ကျပ် ၃၉,၉၀၃,၆၅၅<br>- ၈ နှစ်</td></tr>
<tr><td>၁၅။</td><td>ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှရရှိမည့် တစ်နှစ် မျှော်မှန်းဝင်ငွေ</td><td>-ကျပ် ၅၄၃,၂၁ သန်း</td></tr>
<tr><td>၁၆။</td><td>လုပ်ငန်းမှရရှိသောတစ်နှစ်စာ နိုင်ငံခြား ဝင်ငွေ</td><td>-အမေရိကန်ဒေါ်လာ ၀.၁၅၈ သန်း</td></tr>
<tr><td>၁၇။</td><td>CSR</td><td>- ၂ %</td></tr>
</table>

**Vantage Myawaddy Co., Ltd. မှ အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အကွက်
အမှတ် (၅၃- အေ/ မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊
အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ
မြေ (၀.၄၁၅) ဧကတွင် အခန်း (၅၄) ခန်းပါ အဆင့်မြင့်ဟိုတယ်
တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်းသည့်အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Vantage Myawaddy Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - Vantage Myawaddy Co., Ltd. |
| | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အခန်း (၅၄) ခန်းပါအဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်း |
| ၄။ | လုပ်ငန်းတည်နေရာ | - အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊ အကွက်<br>- အမှတ် (၅၃- အေ/ မြန်မာနန်းအကွက်) ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊ မြဝတီမြို့၊ ကရင်ပြည်နယ်။ |
| | မြေအကျယ်အဝန်း | - ၀.၄၁၅ ဧက |
| | မြေပိုင်ရှင် | - ဦးမျိုးမင်းအောင်ကျော် |
| | အဆောက်အဦအကျယ်အဝန်း | - ၅၆'x ၁၀၈' အကျယ်ရှိ ဟိုတယ်အဆောက်အဦ ၁ လုံး (4.5 Storey RCC Building)<br>- ၆၅'x ၂၅' အကျယ်ရှိ ဟိုတယ်ရုံးအဆောက်အဦ ၁ လုံး (3 Storey Steel Structure Building) |
| ၅။ | **စုစုပေါင်းမတည်ရင်းနှီးငွေ** | - **ကျပ် ၁,၆၀၀ သန်း (including US$ 0.065 million)** |
| | - ငွေသားပမာဏ | - ကျပ် ၇၂,၅၀၀,၀၀၀ |
| | - အဆောက်အဦတန်ဖိုး (ပြည်တွင်း) | - ကျပ် ၈၂၆,၅၃၆,၆၀၀ |
| | **- စက်ပစ္စည်းတန်ဖိုး** (ပြည်ပဝယ်) | - US$ ၆၅,၀၀၀ (မှတ်ချက်။ Exchange Rate US$ 1= Ks.1500) |
| | **- ဟိုတယ်သုံးပစ္စည်းတန်ဖိုး** (ပြည်တွင်းဝယ်) | - ကျပ် ၆၀၃,၄၆၃,၄၀၀ |
| ၆။ | မြေအမျိုးအစား | - ဂရမ်မြေ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုလွှာ

# အောင်မြေမြဝတီကုမ္ပဏီလီမိတက်

---

# အခန်း(၅၄) ခန်းပါအဆင့်မြင့်ဟိုတယ် တည်ဆောက်လုပ်ကိုင်ခြင်း

# Vantage Myawaddy Company Limited

အမှတ် (၂၄၁)၊ မြန်မာနန်း (၁) လမ်း၊

အကွက်အမှတ် (၅၃-အေ/မြန်မာနန်းအကွက်) ဦးပိုင်အမှတ်

( ၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊၂၄၁)၊ အမှတ် (၄) ရပ်ကွက်၊

မြဝတီမြို့၊ ကရင်ပြည်နယ်၊

Vantage Myawaddy Co., Ltd.

## မာတိကာ

| စဉ် | အကြောင်းအရာ | မှတ်ချက် |
|---|---|---|
| ၁။ | - ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၅/၂၀၁၈) နှင့်စပ်လျှဉ်း၍ကုမ္ပဏီ၏ကတိပြုစာ | အလံ - ၁ |
| | - ကရင်ပြည်နယ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ သဘောထားနှင့်အညီလိုက်နာမည်ဖြစ်ကြောင်းကတိပြုပြန်ကြားစာ | |
| | - ကရင်ပြည်နယ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားနှင့်အညီလိုက်နာမည်ဖြစ်ကြောင်းကတိပြုပြန်ကြားစာ | |
| | - ရေဆိုးထုတ်စနစ်တင်ပြခြင်းနှင့်အင်ဂျင်နီယာ၏ Detail Drawing | |
| | - ရင်းနှီးမြှုပ်နှံသူ၏အဆိုပြုလျှောက်ထားလွှာ | |
| | - ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၊ ဟိုတယ်ဆောက်လုပ်ခွင့်၊ | |
| | - မြို့နယ်စည်ပင်သာယာရေးအဖွဲ့၏အဆောက်အအုံဆောက်လုပ်ခွင့်၊ | |
| | - ကတိဝန်ခံချက်များ | |
| ၂။ | ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ (ပုံစံ - ၄ခ) | အလံ - ၂ |
| ၃။ | နောက်ဆက်တွဲ များ | အလံ -၃ |
| | - ၁၀% အထက်ရင်းနှီးမြှုပ်နှံသူများ၏စာရင်း | နောက်ဆက်တွဲ - ၁ |
| | - ရင်းနှီးမြှုပ်နှံမှုစာရင်း | နောက်ဆက်တွဲ - ၂ |
| | - ဟိုတယ်လုပ်ငန်းသုံးပစ္စည်းစာရင်း | နောက်ဆက်တွဲ - ၃ |
| | - အဆောက်အဦစာရင်း | နောက်ဆက်တွဲ - ၄ |
| | - စက်ပစ္စည်းစာရင်း | နောက်ဆက်တွဲ - ၅ |
| | - ဝင်ငွေရရှိမှု | နောက်ဆက်တွဲ - ၆ |
| | - အရှုံး/အမြတ်စာရင်း | နောက်ဆက်တွဲ - ၇ |
| | - ဝန်ထမ်းစာရင်း | နောက်ဆက်တွဲ - ၈ |
| ၄။ | မြေပိုင်ဆိုင်မှုအထောက်အထားများ | အလံ - ၄ |
| | Project Architectural Design | |
| | Google Map | |

| | | |
|---|---|---|
| ၅။ | ဒါရိုက်တာများ၏ မှတ်ပုံတင်ကတ် (မိတ္တူ) နှင့်ငွေကြေး အထောက်အထားများ | အလံ - ၅ |
| ၆။ | ကုမ္ပဏီဖွဲ့စည်းထားသည့်အထောက်အထားများ<br>- ကုမ္ပဏီကတ် (မိတ္တူ)<br>- Director List<br>- Share Schedule | အလံ - ၆ |

# Vantage Myawaddy Company Limited

No. (241), Myanmar Nam 1st Street, Ward No. (4), Myawaddy Township,

Kayin State, Myanmar.

Phone: 095025400, G-mail: myominaungkyaw@gmail.com

---

သို့

ညွှန်ကြားရေးမှူး
ပြည်နယ်စည်ပင်သာယာရေးအဖွဲ့
ဘားအံမြို့

ရက်စွဲ ။ ။ ၂၀၁၈ ခုနှစ်နိုဝင်ဘာလ (၂၈) ရက်၊

အကြောင်းအရာ ။ ။ ကရင်ပြည်နယ်၊ စည်ပင်သာယာရေးအဖွဲ့၏သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုခြင်း။

ရည်ညွှန်းချက် ။ ။ ၁၊ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၇.၁၁.၂၀၁၈ ရက်စွဲပါစာအမှတ် ကရန/ရနမ-၂/၂၀၁၈(၀၁၅၃)

၂၊ ကရင်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၏ ၂၀.၁၁.၂၀၈ရက်စွဲပါစာအမှတ်၂၄၅၅/င-၄၁/ကရစ (၀၃၀)

ကျွန်တော်များ သည်ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၁၊၂၁၂၊၂၁၃၊၂၄၀၊၂၄၁) တွင်တည်ရှိသည့်မြေ (၀.၄၁၅) ဧကတွင်အခန်း (၅၄) ခန်းပါအဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းနှင့်စပ်လျဉ်း၍ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ရည်ညွှန်းချက် (၁) ပါစာဖြင့် ကရင်ပြည်နယ်၊ စည်ပင်သာယာရေးအဖွဲ့၏ ရည်ညွှန်းချက်(၂) ပါစာနှင့်စပ်လျဉ်း၍လိုက်နာရန်အကြောင်းကြားလာခြင်းအပေါ် အောက်ပါအတိုင်းကတိပြုပြန်ကြားအပ်ပါသည်-

(၁) မြဝတီမြို့နယ်စည်ပင်သာယာရေးအဖွဲ့တွင်အဆောက်အအုံဆောက်လုပ်ခွင့်အမိန့်လျှောက်ထားရယူမည် ဖြစ်ကြောင်း ကတိပြုပါသည်၊

(၂) ဟိုတယ်လိုင်စင်မရမီတည်းခိုခြင်းလုပ်ငန်းများကြိုတင်ဆောင်ရွက်လိုပါကစည်ပင်တည်းခိုခန်းလိုင်စင်လျှောက်ထားရယူမည်ဖြစ်ကြောင်းကတိပြုပါသည်၊

(၃) အဆိုပြုလုပ်ငန်း၏ရေဆိုးထုတ်မည့်အစီအစဉ် (Plan) ရေးဆွဲထားပြီးဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်၊

လေးစားစွာဖြင့်

ဦးမျိုးမင်းအောင်ကျော်
မန်နေဂျင်းဒါရိုက်တာ
Ventage Myawaddy Company Limited

မိတ္တူကို
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

# Vantage Myawaddy Company Limited

No. (241), Myanmar Nam 1st Street, Ward No. (4), Myawaddy Township,

Kayin State, Myanmar.

Phone: 095025400, G-mail: myominaungkyaw@gmail.com

VANTAGE MYAWADDY COMPANY LIMITED
No...............
Date.............

သို့

ဥက္ကဋ္ဌ
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ဘားအံမြို့၊

ရက်စွဲ ။ ။ ၂၀၁၈ ခုနှစ်နိုဝင်ဘာလ (၂၆) ရက်၊

အကြောင်းအရာ ။ ။ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၅/၂၀၁၈)အစည်းအဝေးဆုံးဖြတ်ချက်အား လိုက်နာမည်ဖြစ်ကြောင်းကတိပြုတင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၃.၁၁.၂၀၁၈)ရက်စွဲပါစာအမှတ် ကရန/ရနမ-၂/၂၀၁၈ (၀၁၅၁)

ကျွန်တော်များ Ventage Myawaddy Company Limited သည်ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁) ၏မြေ (၄၁၅) ဧက တွင်အခန်း (၅၄) ခန်းပါအဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းနှင့်စပ်လျဉ်း၍ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၅/၂၀၁၈)အစည်းအဝေးဆုံးဖြတ်ချက်အား လိုက်နာမည်ဖြစ်ကြောင်းအောက်ပါအတိုင်းကတိပြုပြန်ကြားအပ်ပါသည်-

၁၊ ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနမှလမ်းညွှန်သည့်အတိုင်းမြေအထောက်အထားအဖြစ်တင်ပြသောမြေဂရမ်တွင်မြေအသုံးချမှုပုံစံပြောင်းလဲတင်ပြသွားရန်ကတိပြုပါသည်၊

၂၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှလမ်းညွှန်သည့်ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် EMP ရေးဆွဲတင်ပြသွားမည်ဖြစ်ကြောင်းကတိပြုတင်ပြအပ်ပါသည်၊

၃၊ လုပ်ငန်းများစတင်သည့်အချိန်တွင်အလုပ်သမားခန့်ထားရေးကိစ္စနှင့်အလုပ်ခန့်ထားခြင်းဆိုင်ရာသဘောတူညီချက်စာချုပ်များအားသက်ဆိုင်ရာဦးစီးဌာန (မြဝတီ) သို့တင်ပြ၍လုပ်ထုံးလုပ်နည်းများနှင့်အညီဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊

၄၊ ရေဆိုးထုတ်စနစ်နှင့်စပ်လျဉ်း၍ပြည်နယ်စီပင်သာယာရေးအဖွဲ့မှညွှန်ကြားသည့်အတိုင်း (Plan) စီမံချက်အားရေးဆွဲတင်ပြသွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊

လေးစားစွာဖြင့်

Myo Min Aung Kyaw
Managing Director
Vantage Myawaddy Company Limited

# Vantage Myawaddy Company Limited

No. (241), Myanmar Nam 1st Street, Ward No. (4), Myawaddy Township,

Kayin State, Myanmar.

Phone: 095025400, G-mail: myominaungkyaw@gmail.com

VANTAGE MYAWADDY COMPANY LIMITED No.............. Date............

သို့

ပြည်နယ်ဦးစီးမှူး
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဘားအံမြို့၊ ကရင်ပြည်နယ်။

ရက်စွဲ ။ ။ ၂၀၁၈ ခုနှစ် နိုဝင်ဘာလ (၂၉) ရက်၊

အကြောင်းအရာ ။ ။ ကရင်ပြည်နယ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုပြန်ကြားခြင်း။

ရည်ညွှန်းချက် ။ ။ ၁၄.၁၁.၂၀၁၈ ရက်စွဲပါစာအမှတ် က-ဘအ/၂၀၁၈ (၅၈၅)

ကျွန်တော်များ Ventage Myawaddy Company Limited သည်ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁) ၏မြေ (၄၁၅) ဧက တွင်အခန်း (၅၄) ခန်းပါအဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းနှင့်စပ်လျဉ်း၍ ကရင်ပြည်နယ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏၁၄-၁၁-၂၀၁၈ ရက်စွဲပါစာအမှတ် က-ဘအ/၂၀၁၈ (၅၈၅) အားလိုက်နာမည်ဖြစ်ကြောင်းအောက်ပါအတိုင်းကတိပြုတင်ပြအပ်ပါသည်-

- ကျွန်တော်များဟိုတယ်လုပ်ငန်းသည်ဟိုတယ်တည်ဆောက်ခွင့်ရရှိထားပြီးဖြစ်၍ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးလုပ်ထုံးလုပ်နည်းနှင့်အညီဆက်လက်တင်ပြဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊
- ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများသည်အဆိုပြုဟိုတယ်လုပ်ငန်းအတွက်သင့်တော်မှုရှိကြောင်းကရင်ပြည်နယ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနသို့တင်ပြ၍စစ်ဆေးမှုခံယူသွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊
- ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ (၁၉၉၃) နှင့်ဟိုတယ်နှင့်တည်းခိုရိပ်သာလုပ်ငန်းလိုင်စင်ဆိုင်ရာအမိန့် (၂၀၁၁) ပါပြဋ္ဌာန်းချက်များနှင့်အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုချက်များကိုကရင်ပြည်နယ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနသို့ပေးပို့တင်ပြသွားပါမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Myo Min Aung Kyaw
Managing Director
Vantage Myawaddy Company Limited

မိတ္တူကို

- ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

# Vantage Myawaddy Company Limited

No. (241), Myanmar Nam 1st Street, Ward No. (4), Myawaddy Township,

Kayin State, Myanmar.

Phone: 095025400, G-mail: myominaungkyaw@gmail.com

VANTAGE MYAWADDY COMPANY LIMITED
No..............
Date............

သို့

ပြည်နယ်တာဝန်ခံ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဘားအံမြို့၊

ရက်စွဲ ။ ။ ၂၀၁၈ ခုနှစ်နိုဝင်ဘာလ (၂၆) ရက်၊

အကြောင်းအရာ ။ ။<u>ကရင်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏သဘောထားပြန်ကြားချက်နှင့်အညီ လိုက်နာမည်ဖြစ်ကြောင်းကတိပြုပြန်ကြားခြင်း။</u>

ရည်ညွှန်းချက် ။ ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၃.၁၁.၂၀၁၈)ရက်စွဲပါစာအမှတ် ကရန/ရနမ-၂/၂၀၁၈ (၀၁၅၀)

ကျွန်တော်များ Ventage Myawaddy Company Limited သည်ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်း (၁) လမ်း၊ အကွက်အမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၁၊ ၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁) ၏မြေ (၄၁၅) ဧက တွင်အခန်း (၅၄) ခန်းပါအဆင့်မြင့်ဟိုတယ်တည်ဆောက်လုပ်ကိုင်ခြင်းနှင့်စပ်လျှဉ်း၍ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၊ ၏ ရည်ညွှန်းပါစာနှင့်စပ်လျှဉ်း၍အောက်ပါအတိုင်းကတိပြုပြန်ကြားအပ်ပါသည်-

၁။ အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးဆိုင်ရာ ထိခိုက်ပျက်စီးမှုများကိုလျှော့နည်းစေရေးအတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင်ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက်နှစ်စဉ်အမြတ်ငွေ၏ (၂%) ကိုရန်ပုံငွေအဖြစ်အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်၊

၂။ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ် ပတ်ဝန်းကျင်ထိခိုက်မှုလျှော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Emvironmental Management Plan – EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီရေးဆွဲတင်ပြမည်ဖြစ်ကြောင်းနှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်မည်ဖြစ်ကြောင်းကတိပြုပါသည်၊

၃။ ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းကတိပြုပါသည်၊

# Vantage Myawaddy Company Limited

No. (241), Myanmar Nam 1st Street, Ward No. (4), Myawaddy Township,

Kayin State, Myanmar.

Phone: 095025400, G-mail: myominaungkyaw@gmail.com


---

၄။ ပြည်နယ်အစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့်လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင်နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကို ရယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိပြုပါသည်။

လေးစားစွာဖြင့်

Myo Min Aung Kyaw
Managing Director
Vantage Myawaddy Company Limited

မိတ္တူကို
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

**VANTAGE MYAWADDY CO.,Ltd**

မြန်မာနန်း(၁)လမ်း၊ အမှတ်(၄)ရပ်ကွက်၊ မြဝတီမြို့။

Phone : 09 5025400

No............... Date...............

သို့

ဥက္ကဋ္ဌ

ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဘားအံမြို့

အကြောင်းအရာ။ **ရေဆိုးစနစ် Project Plan တင်ပြခြင်း**

ရည် ညွှန်း ချက် ။ ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကြီးကြပ်ရေးအဖွဲ့၏ (၂၀-၁၁-၂၀၁၈)ရက်စွဲပါစာအမှတ်၊ကရန/ရနမ-၁/၂၀၁၈(၆၁၄၈)

၁။ ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ်(၄)ရပ်ကွက်၊ ဦးပိုင်အမှတ်(၂၁၁၊၂၁၂၊၂၁၃၊၂၄၀၊၂၄၁)၊ အကွက်အမှတ်(၅၃-အေ/မြန်မာနန်းအကွက်)၊ မြန်မာနန်း(၁)လမ်း၊ အမှတ်(၂၄၁)ရှိ မြေ(၀.၄၁၅)ပေါ်တွင်RC(၅)ထပ်၊ အိပ်ခန်းပေါင်း(၅၄)ခန်း နိုင်ငံတကာအဆင့်မီအဆင့်မြင့်ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့် Vantage Myawaddy Co.,Ltd ၏ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် ရည်ညွှန်းစာပါ အစည်းအဝေးမှတ်တမ်း ဆုံးဖြတ်ချက်၊(က) အပိုဒ်(၄)အရ “ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ ရေဆိုးထုတ်စနစ်အားမည်သို့လုပ်ကိုင်ဆောင်ရွက်မည်ကို Project Plan ရေးဆွဲတင်ပြရန်” ဆုံးဖြတ်ခဲ့ပါသည်။

၂။ Vantage Myawaddy Co.,Ltd အနေဖြင့် အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ကိုင်ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းတွင် ရေဆိုးထုတ်စနစ်အတွက် ဟိုတယ်မှအသုံးပြုပြီးသည့် ရေဆိုးများအား မြေအောက်ကွန်ကရစ်ရေမြောင်းမှတဆင့် Manbole တွင် ရေစစ်ပြီး (၆)လက်မပိုက်(၄)လုံးဖြင့် အများသုံးရေမြောင်းအတွင်းသို့ စီးဆင်းစေရန်လည်းကောင်း၊ မိလ္လာစနစ်အား ပိုးစားကန် Bio Tank (၄)လုံးထည့်သွင်း၍လည်းကောင်း ဆောက်လုပ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်းနှင့် မြဝတီမြို့ သန့်ရှင်းသာယာလှပစေရေးအတွက်လည်း ပူးပေါင်းကူညီဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ရေဆိုးထုတ်မည့်စနစ်ပုံများနှင့်တကွ ပူးတွဲ၍ပြန်လည်တင်ပြအပ်ပါသည်။

(မျိုးမင်းအောင်ကျော်)

မန်းနေဂျင်းဒါရိုက်တာ

Vantage Myawaddy Co.,Ltd

မိတ္တူကို

- ညွှန်ကြားရေးမှူး၊ ပြည်နယ်စည်ပင်သာယာရေးအဖွဲ့၊ ဘားအံမြို့။
- ရုံးလက်ခံ

No............... Date...............

Myo Min Aung Kyaw
Managing Director
Vantage Myawaddy Company Limited

# VANTAGE HOTEL

## မိလ္လာပိုးစားကန် (Bio Tank) စနစ်




ဒေါ်ကျော့နှင်းဖြူ (B.E,Civil)
အကြီးတန်းလိုင်စင်ရအင်ဂျင်နီယာ(၁၉၀)

KYAWT HNIN PHYU

**Golden Crown & Silver Star Co.Ltd.,**
*No.(1,2), 29th street,Bet; 70th & 71st,MANDALAY*
09-2054121,09-2012575,09-2059769

| No | Deign By: |
|---|---|
| Scale : | Sheet No:06 |

# VANTAGE HOTEL




DETAIL OF DARK-ROOM PLAN

0832
CIVIL
KYAWT HNIN PHYU
CONSTRUCTION
MYANMAR

ဒေါ်ကျော့နှင်းဖြူ(B.E,Civil)
အကြီးတန်းလိုင်စင်ရအင်ဂျင်နီယာ(၁၉၀)

| | | | |
|---|---|---|---|
| Location | Golden Crown & Silver Star Co.Ltd.,<br>*No.(1,2), 29th street,Bet;70th &71st,MANDALAY*<br>09-2054121,09-2012575,09-2059769 | | |
| | No | Draw By; | |
| Tube Well,Bio Septic Tank PLAN | Scale : $\frac{1}{16}$"=1' | Sheet No: 02 | |




REGISTERED SENIOR ENGINEER
0532
CIVIL
KYAWT HNIN PHYU
CONSTRUCTION
MYANMAR

ဒေါ်ကျော့နှင်းဖြူ(B.E,Civil)
အကြီးတန်းလိုင်စင်ရအင်ဂျင်နီယာ(၁၉၀)

| Location | Golden Crown & Silver Star Co.Ltd.,<br>No.(1,2), 29th street,Bet;70th &71st,MANDALAY<br>09-2054121,09-2012575,09-2059769 | | |
| --- | --- | --- | --- |
| | No | Draw By; | |
| Tube Well,Bio Septic Tank PLAN | Scale : $\frac{1}{16}$"=1' | | Sheet No: 02 |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/ ၀၀၆၇
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီ လ ၁၁ ရက်

**အကြောင်းအရာ။ ဟိုတယ်ဆောက်လုပ်ခွင့် ပြုပါရန်တင်ပြလာခြင်းကိစ္စ**

၁။ ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်းကွက်သစ်၊ ကွင်းအမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)ရှိ မြေပေါ်တွင် RC(၅)ထပ်၊ အိပ်ခန်း(၅၄)ခန်းပါ **ဟိုတယ်တည်ဆောက်ခွင့်ပြုပါရန် လုပ်ငန်းရှင် ဦးမျိုးမင်းအောင်ကျော် (၁၂/ တမန(နိုင်) ၀၇၇၈၆၈)** မှ တင်ပြလာခဲ့ပါသည်။

၂။ အဆိုပါ တင်ပြချက်အား (၂၈-၁၂-၂၀၁၇) ရက်နေ့တွင် ကျင်းပပြုလုပ်သော ဟိုတယ်နှင့် **ခရီးသွားလာရေး ဝန်ကြီးဌာန၏ စီမံခန့်ခွဲမှုကော်မတီ အစည်းအဝေးအမှတ်စဉ် (၂၃/၂၀၁၇)** ၌ ထည့်သွင်းဆွေးနွေး၍ ဟိုတယ်ဆောက်လုပ်ခွင့်အား သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ ဟိုတယ် ဆောက်လုပ်ခြင်းအား သက်ဆိုင်ရာဌာနများသို့ လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက်တင်ပြခွင့်ပြုချက်များ ရယူဆောင်ရွက်သွားရန်၊ မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ (၁၉၉၃) နှင့် ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင် ဆိုင်ရာအမိန့် (၂၀၁၁) များပါ ပြဋ္ဌာန်းချက်များနှင့်အညီ ဆောင်ရွက်သွားရန် လိုအပ်ပါကြောင်းနှင့် ဟိုတယ်ဆောက်လုပ် ပြီးစီးပါက ဝန်ထမ်းများအားလုံး မီးငြိမ်းသတ်နိုင်ရေးအတွက် မီးငြိမ်းသတ်မှု ဇာတ်တိုက်လေ့ကျင့်ခြင်း၊ မီးသတ်ဆေးဗူး၊ မီးသတ်ကိရိယာများ အသုံးပြုတတ်ရေး လေ့ကျင့်သင်ကြားပေးသွားရန်နှင့် ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် လိုအပ်ကြောင်း အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ရည်မွန်၊အမြဲတမ်းအတွင်းဝန်)

**ဦးမျိုးမင်းအောင်ကျော် (၁၂/ တမန(နိုင်) ၀၇၇၈၆၈)**
**ကရင်ပြည်နယ်၊ မြဝတီမြို့၊ အမှတ် (၄) ရပ်ကွက်၊ မြန်မာနန်းကွက်သစ်၊**
**ကွင်းအမှတ် (၅၃-အေ)၊ ဦးပိုင်အမှတ် (၂၁၂၊ ၂၁၃၊ ၂၄၀၊ ၂၄၁)**

C:\H H Word\Hotel BC Hotel Permit LHr145

မိတ္တူကို

ကရင်ပြည်နယ်အစိုးရအဖွဲ့ (ကရင်ပြည်နယ်အစိုးရအဖွဲ့၏ ၁၇ – ၈ – ၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၂၀၀ / ၇ - ၂၆ / ဦး ၆ (၂၈၉၈) ဟိုတယ်ခရီးအား ရည်ညွှန်းပေးပို့ပါသည်)

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဒုတိယညွှန်ကြားရေးမှူး၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန(ဘားအံရုံးခွဲ)

(လုပ်ငန်းရှင်မှ ဟိုတယ်တည်ဆောက်မှုကို ခွင့်ပြုမိန့်ရပြီးအချိန်မှစ၍ မူလအဆိုပြုချက် နှင့် အညီအမှန်တကယ် ဆောက်လုပ်မှု အခြေအနေကို စဉ်ဆက်မပြတ် စစ်ဆေးကြီးကြပ်တင်ပြပေး သွားပါရန်)

ရုံးလက်ခံ/မျှော

ရုံးတံဆိပ်
မြို့နယ်စည်ပင်သာယာရေးအဖွဲ့
မြဝတီမြို့

မြို့ နယ် စည် ပင် သာ ယာ ရေး အ ဖွဲ့
မြဝတီမြို့
စာအမှတ် ၊ ၂၁၅ /ယ-၁၄/မဝတ(၀၀၂)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ၊ ဖေဖော်ဝါရီ လ ၁၅ ရက်

သို့

ဦးမျိုးမင်းအောင်ကျော်
အာရှလမ်း
အမှတ်(၄)ရပ်ကွက် ၊ မြဝတီမြို့

အကြောင်းအရာ။ **အဆောက်အဦးအသစ်ဆောက်လုပ်ခွင့်ပြုခြင်း**
**ခွင့်ပြုမိန့်အမှတ် ( ၁၆၃ /၂၀၁၇ - ၂၀၁၈ )**

၁။ လူကြီးမင်း၏ ( ၁၂. ၁၂. ၂၀၁၇)ရက်စွဲပါ လျှောက်လွှာကိုရည်ညွှန်း၍ မြဝတီမြို့ ၊ အမှတ်(၄)ရပ်ကွက် ၊ အာရှလမ်းရှိ မြေကွက်အမှတ် (၅၃ - A ၊ မြန်မာနန်းတိုးချဲ့ကွက်သစ် ) ၊ ဦးပိုင်အမှတ်( ၂၁၁ )ပေါ်ရှိ မြေကွက်တွင် မြေညီထပ် အလျား-(၅၅')ပေ၊ အနံ-(၂၅')ပေ ၊ အကျယ်(၂၇၅၀)စတုရန်းပေရှိ သံကူကွန်ကရစ်(၂)ထပ် ၊ (၁)မိုး အဆောက်အဦးအသစ်ဆောက်လုပ်ရန် လျှောက်ထားခြင်းနှင့်ပတ်သက်၍ ပူးတွဲတင်ပြပါအဆောက်အဦး ပုံစံအတိုင်းဆောက်လုပ်ခွင့်ပြုပါသည်။

၂။ အဆောက်အဦးဆောက်လုပ်ရာတွင် မြဝတီမြို့နယ်စည်ပင်သာယာရေးအဖွဲ့၏ ကြိုတင်ခွင့်ပြုမိန့်ချက် မရမီကျောဘက်ပါစည်းကမ်းများနှင့်မညီညွတ်ဘဲ ပြောင်းလဲ၍ဆောက်လုပ်ခဲ့ပါလျှင် စည်ပင်သာယာရေးအဖွဲ့များ ဥပဒေ ၊ ပုဒ်မ - ၁၈ ၊ ပုဒ်မ - ၆၀ (က)အရပြန်လည်ပြုပြင်စေမည်(သို့မဟုတ်) ဖြိုဖျက်စေမည်ဖြစ်ပါသည်။

၃။ ဤခွင့်ပြုမိန့်သည် မြေပိုင်ဆိုင်မှုနှင့်ပတ်သက်၍ သက်သေခံထောက်အထားမဖြစ်စေရ ၊ ပူးတွဲပါခွင့်ပြုသောအဆောက်အဦးပုံစံ ၊ မြေစာရင်းပုံစံများတို့ကို သက်ဆိုင်ရာဂရန်တွင်တွဲထားရမည် မြေကွက်နှင့်အဆောက်အဦးကို တိုင်းထွာစစ်ဆေးသည့်အခါ ကွဲလွဲချက်များရှိခဲ့ပါကအဆောက်အဦးလုပ်ရန် တင်ပြလျှောက်ထားသူ၏ တာဝန်သာဖြစ်ရမည့်အပြင် ဖျက်သိမ်းရန်ညွှန်ကြားခြင်းခံရပါက မပျက်မကွက်ဖျက်သိမ်းပေးရမည်ဖြစ်ပါသည်။

ခေတ္တအမှုဆောင်အရာရှိ
( မောင်မောင်အောင် ၊ အင်ဂျင်နီယာမှူး )

မိတ္တူကို

အခွန်ဌာနစိတ်
ရုံးလက်ခံ
မျှောစာတွဲ

**အဆောက်အဦးဆောက်လုပ်ရာတွင် လိုက်နာဆောင်ရွက်ရမည့် စည်းကမ်းချက်များ**

၁။ အဆောက်အဦးကို မိမိပိုင်ဂရမ်မြေအတွင်း ပူးတွဲတင်ပြပါပုံစံအတိုင်းသာ ဆောက်လုပ်ရမည်။

၂။ ဆောက်လုပ်ရေးပစ္စည်းများ(အုတ်/သဲ/ကျောက်/သံချောင်း/သစ်နှင့်အခြားပစ္စည်း ) အစရှိသည် များကို မိမိနေရာအတွင်း၌သာစုဆောင်ထားရမည်။အခြားပိုင်ရှင်မြေနေရာအတွင်းစုပုံပါက ခွင့်ပြုချက် ရယူ၍ သတ်မှတ်စုပုံခပေးဆောင်ရမည်။

၃။ ဆောက်လုပ်ရေးပစ္စည်းများစုပုံရာတွင် ရေနှုတ်မြောင်းအတွင်း ကျရောက်ပိတ်ဆို့ခြင်းမရှိအောင် ဆောင်ရွက်ရန်နှင့် ရေစီးရေလာကောင်းမွန်အောင် အစဉ်အမြဲရှင်းလင်းဆောင်ရွက်ထားရှိရန်တို့ကို လိုက်နာဆောင်ရွက်ရမည်။

၄။ အဆောက်အဦးဆောက်လုပ်ခြင်းကြောင့် အိမ်ဝင်းအတွင်းနှင့်အိမ်ဝင်းပတ်လည်ရှိ အများပြည်သူနှင့် သက်ဆိုင်သော ရေနှုတ်မြောင်းများထိခိုက်ခြင်း ၊ ပိတ်ဆို့ခြင်းမဖြစ်ပေါ်စေရ။

၅။ ဤခွင့်ပြုချက်သည် ဆောက်လုပ်ခွင့်ပြုသည့်နေ့မှစ၍(၆)လအထိသာ အတည်ဖြစ်သည်၊ (၆)လကျော် လွန်သည့်အထိအဆောက်အဦးမပြီးစီးသေးပါက သက်တမ်းတိုးမြှင့်ပေးရေးအတွက် အဖွဲ့ထံသို့ပြန်လည် လျှောက်ထားရမည်။အဖွဲ့၏သက်တမ်းတိုးခွင့်ပြုမိန့်ရရှိပြီးမှသာ ဆက်လက်ဆောက်လုပ်ရမည်။

၆။ အဆောက်အဦးဆောက်လုပ်ပါက စည်းကမ်းချက်နှင့်အညီဆောက်လုပ်ခြင်း ရှိ/မရှိ စစ်ဆေးနိုင်ရန် အဖွဲ့သို့ ပြီးစီးကြောင်းပြန်လည်လျှောက်ထားရမည်။

၇။ လျှောက်ထားချက်အပေါ် အဖွဲ့မှ ပြန်လည်စစ်ဆေးပြီး သတ်မှတ်စံချိန်စံညွှန်းများအတိုင်း ဆောက်လုပ် ထားကြောင်း မှန်ကန်မှသာလျှင် အဆောက်အဦးတွင် လူနေထိုင်/အသုံးပြုခွင့်အားထုတ်ပေးမည်။

၈။ ခွင့်ပြုထားသည့်အတိုင်းအတာ အထပ်အရေအတွက်အတိုင်းဆောက်လုပ်ရန်နှင့် ခွင့်ပြုချက်အတိုင်း မဆောက်လုပ်ပါကစည်ပင်သာယာရေးဥပဒေအရ အရေးယူသွားမည်။

၉။ ခွင့်ပြုမိန့် ဗွီနိုင်းစကိုဆောက်လုပ်မည့်အဆောက်အဦးရှေ့တွင်ကပ်ထားပေးရန်နှင့် ကပ်ထားမှုမရှိ ပါက ဒဏ်ကြေးငွေ ၃၀၀၀ိ/- တိတိကို ဒဏ်ရိုက်အရေးယူသွားမည်။

( မြဝတီမြို့နယ်စည်ပင်သာယာရေးအဖွဲ့ )

